အဆိုပြုချက်ပါ တစ်နှစ်လုံး ကုန်ကြမ်းလိုအပ်ချက်အတွက် တစ်ခုလိုအပ်ချက်နှုန်းထား၊ တားမြစ်သတ်မှတ်စံနှုန်းများနှင့် ကိုက်ညီမှုရှိကြောင်းတွေ့ရှိရ၍ CMP ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိပါသည်။

(ခ) **CMPလက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ**

အဆိုပြုချက်တွင် ပထမနှစ်တွင် အရှုံးပေါ်နေပြီး ဒုတိယနှစ် တတိယနှစ် မှစ၍ ထုတ်လုပ်မှု အရေအတွက်ပိုမိုတိုးမြှင့်လာသည့် အတွက် အမြတ်များစွာ ရရှိသဖြင့် C.M.P လက်ခ နှုန်းထားများ တင်ပြမှုဆီလျော်မှု ရှိပါသည်-

| **ပစ္စည်းအမျိုးအမည်** | **ပထမနှစ် CMP လက်ခနှုန်းထား** | **ဒုတိယနှစ် CMP လက်ခနှုန်းထား** |
|---|---|---|
| 1. Choke | 0.12 မှ 0.56 US$/ pc | 0.12 မှ 0.57 US$/ pc |
| 2. Filter | 0.09 မှ 0.24 US$/pc | 0.09 မှ 0.25 US$/pc |
| 3. SMD Inductor | 0.05 မှ 0.16 US$/pc | 0.05 မှ 0.16 US$/pc |
| 4. Transformer | 0.07 မှ 1.49 US$/pc | 0.07မှ 1.54 US$/pc |

(ဂ) **နှစ်စဉ်ထုတ်လုပ်မှု၊ စက်အင်အား၊ လူအင်အားအချိုးအစား ညီမျှမှု ရှိ/မရှိ**

အဆိုပြုချက်ပါ ပစ္စည်းများ ထုတ်လုပ်ရန်အတွက် ပထမနှစ်တွင် Quality Control ၈ ဦး၊ Supervisors ၇ ဦး Workers ၄၅၀ ဦး တို့ဖြင့် ထုတ်လုပ်မည်ဖြစ်ပြီး ဒုတိယနှစ်တွင် ဝန်ထမ်းဦးရေ ၂ ဆခန့် တိုးမြှင့်ခန့်ထားမည်ဖြစ်သဖြင့် နှစ်စဉ်ထုတ်လုပ်မှု၊ စက်အင်အား၊ လူအင်အားအချိုးအစား ညီမျှမှုရှိပါသည်။

၃။ သို့ဖြစ်ပါ၍ Delta Electronics (Myanmar) Co.,Ltd ကို ခွင့်ပြုသင့်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲမှုလျော့ချရေးကို အထောက်အကူပြုနိုင်မည်ဖြစ်၍ CMP စနစ်ဖြင့် အီလက်ထရောနစ်ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ပါကြောင်း တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ထင်အောင်၊ အတွင်းရေးမှူး)
(ဒုတိယဝန်ကြီး၊အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန)

မိတ္တူကို

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)
အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန
(CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
Delta Electronics (Myanmar) Co.,Ltd
ရုံးလက်ခံ/မျှောစာတွဲ